ကုမ္ပဏီအမည် - SIM Co., Ltd.

လုပ်ငန်း - ဆိပ်ကမ်းနှင့် သိုလှောင်ရုံများ တည်ဆောက်ပြီး ကမ်းလွန်ရေနံတွင်းများတွင် လိုအပ်သော ဝန်ဆောင်မှုများကို ထောက်ပံ့ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၂၅-၄-၂၀၁၆ | | |
| ၂ | သဘောထားမှတ်ချက် တောင်းခံခြင်း | | | |
| | (က) ဧရာဝတီတိုင်း ဒေသကြီး အစိုးရအဖွဲ့ | ၆-၄-၂၀၁၆ | ၈-၇-၂၀၁၆ | ၉၂ ရက် |
| | (ခ) ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန | ၆-၄-၂၀၁၆ | ၉-၅-၂၀၁၆ | ၃၂ ရက် |
| | (ဂ) ပို့ဆောင်ရေးဝန်ကြီးဌာန | ၆-၄-၂၀၁၆ | ၃၀-၅-၂၀၁၆ | ၅၄ ရက် |
| | (ဃ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | ၆-၄-၂၀၁၆ | ၁၀-၆-၂၀၁၆ | ၃၄ ရက် |
| | (င) လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန | ၁၀-၃-၂၀၁၇ | ၂၀-၃-၂၀၁၇ | ၁၀ ရက် |
| ၃ | PAT (၁၅/၂၀၁၆) သို့ တင်ပြခြင်း | ၂၅-၄-၂၀၁၆ | | |
| ၄ | အဆိုပြုချက်ပြန်ပို့ခြင်း | ၂-၅-၂၀၁၆ | | |
| ၅ | ကုမ္ပဏီမှ တင်ပြလာခြင်း | ၂၁-၂-၂၀၁၇ | | |
| ၆ | ကုမ္ပဏီမှ အဆိုပြုလွှာ ပေးပို့ခြင်း | ၂၉-၃-၂၀၁၇ | | |
| | စုစုပေါင်းကြာမြင့်ရက် | ၇၉ ရက် | | |

ကုမ္ပဏီ အမည် - SIM Co., Ltd. (အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက်)
အဖွဲ့အစည်းပုံသဏ္ဍာန် - မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု လုပ်ငန်း
လုပ်ငန်းအမျိုးအစား - ဆိပ်ကမ်းနှင့် သိုလှောင်ရုံများ တည်ဆောက်ပြီး ကမ်းလွန်ရေနံတွင်းများတွင် လိုအပ်သော ဝန်ဆောင်မှုများကို ထောက်ပံ့ခြင်းလုပ်ငန်း
တည်နေရာ - ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ငပုတောမြို့နယ်၊ ငရုတ်ကောင်းမြို့၊ နံသာပု ကျေးရွာ အုပ်စု၊ အကွက် အမှတ် (၆၇၉)၊ နံသာပုအပြင်ကွင်း၊ ဦးပိုင်အမှတ် ၃၂၊ မြေ ၁၈၄.၃၀ ဧက အနက် မြေ ၄၉ ဧက
စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - ကျပ် ၂၄,၄၂၆.၃၁ သန်း
ဝန်ဆောင်မှုပေးမည့်စနစ် - ပြည်တွင်း ၁၀၀%
လုပ်ငန်းသက်တမ်း - ၃၀ နှစ်
အရင်းကြေ ကာလ - ၄ နှစ် ၄ လ
IRR - ၂၉.၀၄ %
အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၀.၆၇ သန်း |
| ၃ | သွင်းကုန်ခွန် ကင်းလွတ်ခွင့် | - | |
| ၄ | ဝင်ငွေခွန် | ကျပ် ၅.၄၅ သန်း | ကျပ် ၁၄.၁၀ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | ကျပ် ၂.၆၀ သန်း |
| ၆ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | ကျပ် ၃.၈၃ သန်း<br>တစ်နှစ် ဝင်ငွေကျပ် ၄.၈ သန်း (ကျပ် လေးဆယ့်ရှစ်သိန်း) ကျော်ပါက အခွန်ပေးရမည့် ပြည်တွင်းဝန်ထမ်း ၃၈ ဦး |
| ၇ | CSR (၂%) | | ကျပ် ၁၇.၆၅ သန်း |
| ၈ | အလုပ်အကိုင် အခွင့်အလမ်း | | အမြဲတမ်း ပြည်တွင်း ၉၃ ဦး<br>ပြည်တွင်းလုပ်သား၉၃ဦးအလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုး တက်မှုကို အထောက်အကူပြုစေပါသည်။<br>အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှု လျှော့ချရေးကို အထောက်အကူပြုစေနိုင်ပါသည်။ |
| | | **ကျပ် ၈.၄၅သန်း** | **ကျပ် ၃၈.၈၆ သန်း** |
| | | ၁ း ၄.၅ | |

အကြောင်းအရာ။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် SIM Co., Ltd. (အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက်)မှ ဆိပ်ကမ်းနှင့်သိုလှောင်ရုံများ တည်ဆောက်ပြီး ကမ်းလွန်ရေနံတွင်းများတွင် လိုအပ်သော ဝန်ဆောင်မှုများကို ထောက်ပံ့ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - **အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက် (SIM Co., Ltd.)** |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးအောင်မင်းဟန် (အဘ-ဦးသက်လွင်) |
| ၃။ | ဖွဲ့စည်းမှုပုံသဏ္ဍာန် | - လီမိတက် ကုမ္ပဏီ (Private Company ဖြစ်ပါသည်။) |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ဆိပ်ကမ်းနှင့် သိုလှောင်ရုံများ တည်ဆောက်ပြီး ကမ်းလွန်ရေနံတွင်းများတွင် လိုအပ်သော ဝန်ဆောင်မှုများကို ထောက်ပံ့ခြင်းလုပ်ငန်း |
| ၅။ | တည်နေရာ | - နံ့သာပု(ပြင်)ကွင်း၊ မြေတိုင်းကွင်းအမှတ် (၆၇၉)၊ နံ့သာပုကျေးရွာအုပ်စု၊ ငရုတ်ကောင်းမြို့၊ ပုသိမ်ခရိုင်၊ ဧရာဝတီတိုင်းဒေသကြီး |
| | မြေအကျယ်အဝန်း | - မြေဧရိယာ ၁၈၄.၃၀ ဧကအနက် (၄၉) ဧက (၁၉၈,၂၉၆.၁၄ စတုရန်းမီတာ) |
| | မြေပိုင်ရှင် | - SIM Co., Ltd. |
| ၆။ | စုစုပေါင်းမ,တည်ငွေရင်း | **ကျပ် ၂၄,၄၂၆.၃၁ သန်း** |
| | | **ကျပ်(သန်း)** |
| | **ထည့်ဝင်မှုအမျိုးအစား** | |
| | ငွေပမာဏ | ၁,၃၀၀.၀၀ |
| | အဆောက်အဦ | ၁၇,၉၈၇.၄၁ |
| | စက်ပစ္စည်းကိရိယာများ(ပြည်တွင်းဝယ်) | ၅,၁၀၅.၀၀ |
| | ပရိဘောဂ | ၃၃.၉၀ |
| | **စုစုပေါင်း** | **၂၄,၄၂၆.၃၁** |
| ၇။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ၃၀ နှစ် |
| ၈။ | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၉။ | ဝန်ထမ်းအင်အား (ပထမနှစ်) | - ပြည်တွင်း ၉၃ ဦး (အနိမ့်ဆုံးလစာမှာ ၁၅၀,၀၀၀ ကျပ် အမြင့်ဆုံးလစာမှာ ၃,၀၀၀,၀၀၀ ကျပ်ဖြစ်ပါသည်။)<br>- ပြည်ပ မရှိပါ။ |
| ၁၀။ | ကုမ္ပဏီ၏ (၆နှစ်မြောက်) | |
| | ဝင်ငွေ | - ကျပ် ၂၅,၉၀၁.၁၈ သန်း |
| | အသုံးစရိတ် | - ကျပ် ၁၁,၇၈၂.၇၃ သန်း |
| | အသားတင် အမြတ် | - ကျပ် ၁၄,၁၁၈.၄၅ သန်း |

| | | |
|---|---|---|
| ၁၁။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (၆နှစ်မြောက်) | |
| | ဝင်ငွေခွန် | - ကျပ် ၄,၇၀၆.၁၅ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၁,၂၉၅.၀၆ သန်း |
| | အရင်းကြေကာလ | - ၄ နှစ် ၄ လ |
| | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၂၉.၀၄ % |
| ၁၂။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ဓာတ်ဆီ၊ ဒီဇယ် အင်ဂျင်စက်အား ၂၆၈၀ hp |
| ၁၃။ | CSR | - နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂% ကို အသုံးပြုမည်ဟု တင်ပြထားပါသည်။ |
| ၁၄။ | မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် | - မီးဘေးကြိုတင်ကာကွယ်ရေးအတွက် စည်းကမ်းချက်များ ချမှတ်ထားပြီး ၎င်းစည်းကမ်းချက်များကို ဝန်ထမ်းများအား တိကျစွာ လိုက်နာဆောင်ရွက်ရန် စီမံထားကြောင်း၊ မီးသတ်သင်တန်းများ ပေးခြင်း၊ မီးဘေးလုံခြုံရေးစီမံချက်၊ အရေးပေါ်ကာကွယ်တားဆီးမှု စီမံချက်များ ပါဝင်သည့် အစီရင်ခံစာကို တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက- ၅(စ)/မ-၀၀၁/၂၀၁၇( ၂၁၃ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် မေလ ၁၂ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် SIM Co., Ltd. (အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက်) မှ ဆိပ်ကမ်းနှင့် သိုလှောင်ရုံများ တည်ဆောက်ပြီး ကမ်းလွန်ရေနံတွင်းများတွင် လိုအပ်သော ဝန်ဆောင်မှုများကို ထောက်ပံ့ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် SIM Co., Ltd. (အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက်)မှ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ငပုတောမြို့နယ်၊ ငရုတ်ကောင်းမြို့၊ နံ့သာပု ကျေးရွာအုပ်စု၊ အကွက်အမှတ် (၆၇၉)၊ နံ့သာပုအပြင်ကွင်း၊ ဦးပိုင်အမှတ် ၃၂ ရှိ မြေ ၁၈၄.၃၀ ဧက အနက် မြေ ၄၉ ဧကတွင် ဆိပ်ကမ်းနှင့် သိုလှောင်ရုံများ တည်ဆောက်ပြီး ကမ်းလွန်ရေနံတွင်းများတွင် လိုအပ်သော ဝန်ဆောင်မှုများကို ထောက်ပံ့ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ SIM Co., Ltd. (အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက်)၏ ကုမ္ပဏီဖွဲ့စည်းမှတ်ပုံတင်ထားသည့် အထောက်အထား၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းများအား တင်ပြထားပါသည်။ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ငပုတောမြို့နယ်၊ ငရုတ်ကောင်းမြို့၊ နံ့သာပုကျေးရွာအုပ်စု၊ အကွက်အမှတ် (၆၇၉)၊ နံ့သာပုအပြင်ကွင်း၊ ဦးပိုင်အမှတ် ၃၂ ရှိ မြေ ၁၈၄.၃၀ ဧကအား အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် SIM Co., Ltd. (အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက်)သို့ တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးမှ ၂၀၁၆ ခုနှစ် မတ်လ ၁၁ ရက်စွဲပါစာဖြင့် အခြားနည်း အသုံးပြုခွင့်ပုံစံ-၁၅(က) ထုတ်ပေးထားကြောင်း တင်ပြထားပါသည်။ အဆိုပြုလုပ်ငန်း စီမံကိန်း အပိုင်း (၁) အတွက် မြေ ၁၈၄.၃၀ ဧကအနက် မြေ ၄၉ ဧကအား အသုံးပြုမည်ဖြစ်ပါသည်။

၃။ အဆိုပြု တင်ပြလာသည့် "ဧရာဝတီကမ်းလွန်ထောက်ပံ့ ပို့ဆောင်ရေးစခန်း စီမံကိန်း" အား အပိုင်း(၃) ပိုင်းဖြင့် အကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဖြစ်ပြီး၊ စုစုပေါင်း ခန့်မှန်းကုန်ကျငွေမှာ အမေရိကန်ဒေါ်လာ ၄၀၀ သန်းခန့်ကုန်ကျမည်ဟု ခန့်မှန်းထားပါကြောင်း၊ အပိုင်း(၁)ကို မြေဧရိယာ ၄၉ ဧကပေါ်တွင် တည်ဆောက်ပြီး ခန့်မှန်း ကုန်ကျငွေမှာ အမေရိကန်ဒေါ်လာ ၁၅၀ သန်းခန့် ကုန်ကျ၍ တည်ဆောက်ရေးကာလ တစ်နှစ်ခွဲခန့်ကြာမြင့်မည်ဟု ခန့်မှန်းထားကြောင်းနှင့် အပိုင်း(၁) တွင် ပါဝင်သည့်ဝန်ဆောင်မှုများမှာ- ဆိပ်ခံတံတားအမှတ်(၁)၊ ကုန်သိုလှောင်ရုံ၊ အသက်မွေးဝမ်း

ကျောင်းမှုသင်တန်းကျောင်း၊ ရေသိုလှောင်ကန်၊ သဘော်ာကမ်းကပ်သည့် ဝန်ဆောင်မှု၊ စက်ပစ္စည်းများ သိုလှောင်ရုံ၊ ရေနံတွင်းများတွင် အသုံးပြုသောပိုက်များထားသည့်မြေဧရိယာ၊ အကောက်ခွန်ဝန်ဆောင်မှု၊ မီးငြိမ်းသတ်သည့် ဝန်ဆောင်မှု၊ လုံခြုံရေးနှင့် အစောင့်ချထားသည့် ဝန်ဆောင်မှုတို့ ပါဝင်ပြီး စီမံကိန်း အပိုင်း(၁)တွင် အဆောက်အဦများ အနေဖြင့် Warehouse ၆ လုံး၊ တည်ဆောက်မည်ဟု ဖော်ပြထားပြီး ကမ်းလွန်ထောက်ပံ့ရေးစခန်း တည်ဆောက်မည့်လျာထားမြေနေရာ၊ ကမ်းလွန်ထောက်ပံ့ပို့ဆောင်ရေးစခန်း Layout Plan နှင့် ပုံစံငယ်များအား တင်ပြထားပါသည်။

၄။ စီမံကိန်း အပိုင်း(၂) တွင် ပါဝင်သည့် ဝန်ဆောင်မှုများမှာ- ဆိပ်ခံတံတားအမှတ် (၂)၊ ကွန်တိန်နာထားသည့်မြေနေရာ၊ ရေသိုလှောင်ကန်၊ စက်ပစ္စည်းများပြင်ဆင်သည့် နေရာ၊ ဆေးခန်း၊ ဆီယို ဖိတ်မှုကို သန့်ရှင်းပေးသည့်ဝန်ဆောင်မှုလုပ်ငန်း တို့ဖြစ်ပါသည်။

၅။ လုပ်ငန်းစီမံကိန်း သက်တမ်းကာလမှာ ၃၀ နှစ်ဖြစ်ပြီး တည်ဆောက်မှုကာလမှာ ၂၄ လ ဖြစ်ပါသည်။

၆။ လုပ်ငန်း၏ စုစုပေါင်း မ,တည်ငွေရင်း ပမာဏမှာ ကျပ် ၂၄,၄၂၆.၃၁ သန်း ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုပုံစံမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | ကျပ်(သန်း) |
|---|---|
| ငွေသား | ၁,၃၀၀.၀၀ |
| အဆောက်အဦ | ၁၇,၉၈၇.၄၁ |
| စက်ပစ္စည်း၊ စက်ကိရိယာများ (ပြည်တွင်းဝယ်) | ၅,၁၀၅.၀၀ |
| ပရိဘောဂ | ၃၃.၉၀ |
| **စုစုပေါင်း** | ၂၄,၄၂၆.၃၁ |

၇။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၉၃ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း တစ်ဦး ၏အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၃,၀၀၀,၀၀၀ ဖြစ်ပါသည်။

၈။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ် (၆) နှစ်မြောက်တွင် ဝင်ငွေရရှိမှုမှာ ကျပ် ၂၅,၉၀၀.၁၈ သန်း ဖြစ်ပါသည်။ (ဝန်ဆောင်မှု နှုန်းထားနှင့် ဝန်ဆောင်မှုပုံစံ ဖော်ပြထားသည့် အသေးစိတ်ဇယားအား ပူးတွဲဖြင့် တင်ပြထားပါသည်။)

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ၆ နှစ်မြောက်တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | | ကျပ် (သန်း) |
|---|---|---|---|
| (က) | ဝင်ငွေ | - | ၂၅,၉၀၀.၁၈ |
| (ခ) | အသုံးစရိတ် | - | ၁၀,၇၈၂.၇၃ |
| (ဂ) | အသားတင်အမြတ် | - | ၁၄,၁၁၈.၄၅ |

၁၀။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ၆ နှစ်မြောက်တွင် ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၄,၇၀၆.၁၅ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၁,၂၉၅.၀၆ သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏အရင်းကြေကာလမှာ ၄ နှစ် ၄ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း IRR မှာ ၂၉.၀၄% ဖြစ်ပါသည်။

၁၁။ ယင်းအဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရောဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့မှ** တိုင်းဒေသကြီးအစိုးရအဖွဲ့ အနေဖြင့် ပြောင်းလဲလာသည့် ခေတ်စနစ်၊ ဥပဒေများနှင့်အညီ တိုင်းဒေသကြီး အတွင်း ရှိ ဒေသခံပြည်သူ အလုပ်အကိုင် အခွင့်အလမ်း ရရှိစေရေး၊ စီးပွားရေး ဖွံ့ဖြိုးတိုးတက်စေရေးတို့ကို ဦးစား ပေးဆောင်ရွက်လျက်ရှိပါသဖြင့် ယခုအဆိုပြုလာသည့် SIM Co., Ltd. (အက်(စ်) အိုင် အမ် ကုမ္ပဏီလီမိတက်)၏ ရောဝတီ ကမ်းလွန် ထောက်ပံ့ ပို့ဆောင်ရေးစီမံကိန်းသည် ရောဝတီတိုင်းဒေသကြီးအတွင်း အကျိုးရှိစေမည့် လုပ်ငန်းဖြစ်ပါသဖြင့်အဆိုပါ စီမံကိန်းအား ရောဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ထောက်ခံပါကြောင်း သဘောထားပြန်ကြားလာပါသည်။ **(နောက်ဆက်တွဲ-က)**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားသည့် MSR-Myanmar Survey Research မှ ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလတွင် ပြုစုပြီးစီးသည့် Initial Environmental Examination Project အား သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ ပေးပို့တင်ပြပြီးဖြစ်ပါသည်။

(ဂ) **လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်-

(၁) SIM Co., Ltd. (အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက်)၏ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံသူမှ သက်ဆိုင်သည့် ရင်းနှီးမြှုပ်နှံမှုဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အဆိုပြုတင်ပြခြင်း ဖြစ်သောကြောင့် ကန့်ကွက်ရန် မရှိပါကြောင်း။

(၂) တင်ပြပါလုပ်ငန်းနှင့် ပတ်သက်၍ အဆိုပြုသူ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံသူ၏ လုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်နိုင်မည့် သက်ဆိုင်သည့်နည်းပညာကျွမ်းကျင်မှု၊ ငွေကြေးအရင်းအနှီးခိုင်မာမှုနှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ပါဝင်ခြင်း ရှိ-မရှိ စသည့်အချက်တို့မှာ ကော်မရှင်မှသာ ဆက်လက်စိစစ်ဆောင်ရွက်သွားမည့် ကိစ္စရပ်များဟု သုံးသပ်ရရှိပါကြောင်း။ **(နောက်ဆက်တွဲ-ခ)**

(ဃ) **ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်ကိစ္စနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားလာပါသည်-

(၁) အဆိုပြု တင်ပြထားသည့် ကမ်းလွန် ထောက်ပံ့ ပို့ဆောင်ရေးစခန်း (Offshore Supply Base) စီမံကိန်းဧရိယာသည် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ Port Limit ပြင်ပတွင် တည်ရှိသော်လည်း ဆိပ်ကမ်းဖွံ့ဖြိုးတိုးတက်ရေးလုပ်ငန်းများ ဆောင်ရွက်ပါက မြန်မာ့ဆိပ်ကမ်း အာဏာပိုင် ဥပဒေအရ ပို့ဆောင်ရေးနှင့်ဆက် သွယ်ရေးဝန်ကြီးဌာနမှ ပြည်ထောင်စုအစိုးရအဖွဲ့၏ သဘောတူညီချက်ဖြင့် ဆိပ်ကမ်းသစ်များအား Port Limit အဖြစ် သတ်မှတ်နိုင်ရန်အတွက် အမိန့် ကြော်ငြာစာ ထုတ်ပြန်၍ ဆောင်ရွက်သွားရမည်ဖြစ်ကြောင်း။

(၂) Port Limit သတ်မှတ်ခြင်းအပြင် SIM Co., Ltd. (အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက်) မှ အဆိုပြုတင်ပြသည့် ဆိပ်ခံတံတားသည် နိုင်ငံတကာ ဆိပ်ကမ်းဖြစ်သည့် အားလျော်စွာ ဆိပ်ခံတံတား တည်ဆောက်၍ ဆိပ်ကမ်းဝန်ဆောင်မှု လုပ်ငန်းများ ဆောင်ရွက်ရန် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် SIM Co., Ltd. (အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက်) တို့ အကြား BOT စနစ်ဖြင့် နှစ်ရှည်မြေငှားရမ်းသည့် ပဋိညာဉ် စာချုပ်ချုပ်ဆို ဆောင်ရွက်သွားရန်ဖြစ်ကြောင်း။

(၃) အပြည်ပြည်ဆိုင်ရာ ဆိပ်ခံတံတားကို စံချိန်စံညွှန်းနှင့်အညီ တည်ဆောက်သွားရန် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ကြီးကြပ်စစ်ဆေးနိုင်ရန်နှင့် တည်ဆောက်ရေးလုပ်ငန်းပြီးစီးပါက အပြည်ပြည်ဆိုင်ရာ ဆိပ်ကမ်းအဖြစ် ခွင့်ပြုမိန့်ထုတ်ပေး နိုင်ရန်အတွက် ကုမ္ပဏီမှ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ ဆိပ်ခံတံတားနှင့်ပတ်သက်သည့် အချက်အလက်များအား တင်ပြလျှောက်ထားရန် လိုအပ်မည်ဖြစ်ကြောင်း။ **(နောက်ဆက်တွဲ-ဂ)** **ကုမ္ပဏီမှ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း ၂၀၁၆ခုနှစ် ဧပြီလ ၂၅ ရက်နေ့ရက်စွဲပါစာဖြင့် ပြန်လည်တင်ပြထားပါသည်။**

၁၂။ ငွေကြေး အထောက်အထားအဖြစ် SIM Co., Ltd. (အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက်)မှ ဒါရိုက်တာ ဒေါ်ကေဇင်မျိုးညွန့် အမည်ဖြင့် ရောဝတီဘဏ်(တာမွေဘဏ်ခွဲ)တွင် (၁၇-၂-၂၀၁၆) ရက်စွဲဖြင့် မြန်မာကျပ်ငွေ ၁၀၀,၀၀၀,၀၀၀ ရှိကြောင်း တင်ပြထားသည့်အပြင် ယခုစီမံကိန်းအတွက် ရောဝတီဘဏ်မှ ချေးငွေအဖြစ် ကျပ် ၂၄ ဘီလီယံ အား ချေးယူခွင့်ပြုမည့် အထောက်အထားအား တင်ပြထားပါသည်။

၁၃။ SIM Co., Ltd. (အက်(စ်) အိုင် အမ် ကုမ္ပဏီ လီမိတက်) မှ ဝန်ထမ်းများအတွက် သက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်မှု အစီအစဉ်နှင့် လူမှုရပ်ရွာ အကျိုးပြုမှု

အစီအစဉ်အဖြစ် Corporate Social Responsibility အဖြစ် လုပ်ငန်း၏ နှစ်စဉ် အသားတင် အမြတ်ငွေ၏ ၂ % ကို သုံးစွဲမည်ဖြစ်ပြီး Corporate Social Responsibility-CSR Plan အသေးစိတ်အား တင်ပြထားပါသည်။

၁၄။ မီးဘေးလုံခြုံရေးအစီအမံအနေဖြင့် စက်ပစ္စည်းများ၊ လျှပ်စစ်ဝါယာကြိုးထားရှိမှု အစီအမံများကို စနစ်တကျ ထားရှိမည်ဖြစ်ပြီး ကျွမ်းကျင်ဝန်ထမ်းများဖြင့် ခြောက်လတစ်ကြိမ် စစ်ဆေးမည်ဖြစ်ပြီး လောင်စာများကိုလည်း စနစ်တကျထားရှိမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစား ခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၆။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ လုပ်ငန်းဆောင်ရွက်ခွင့်ကို ၂၀၁၆ ခုနှစ် ဧပြီလ ၆ ရက်နေ့ ရက်စွဲဖြင့် တင်ပြခဲ့ပြီး ၂၀၁၆ ခုနှစ် ဧပြီလ ၂၅ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက် စိစစ်ရေး အဖွဲ့၏ ၁၅/၂၀၁၆ အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၇။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) မြေပိုင်ဆိုင်မှုနှင့် စပ်လျဉ်း၍ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ငပုတောမြို့နယ်၊ ငရုတ်ကောင်းမြို့၊ နံ့သာပု ကျေးရွာအုပ်စု၊ အကွက် အမှတ် (၆၇၉)၊ နံ့သာပုအပြင်ကွင်း၊ ဦးပိုင်အမှတ် ၃၂၊ မြေ ၁၈၄.၃၀ ဧက ကို လယ်မြေမှတစ်ပါး လယ်ယာမြေအား အခြားနည်းအသုံးပြုရန် ခွင့်ပြုမိန့် ပုံစံ-၁၅(က) အား ၂၀၁၆ ခုနှစ် မတ်လ ၁၁ ရက်နေ့ ရက်စွဲဖြင့် ရရှိပြီးဖြစ်ပါသည်။

(ခ) လုပ်ငန်းအကောင်အထည်ဖော်ရာတွင် မြန်မာကျပ်ငွေ ၂၄ ဘီလီယံနှင့်ညီမျှသော အမေရိကန်ဒေါ်လာကို တစ်နှစ်လျှင် အတိုးနှုန်း ၈ % ဖြင့် ဧရာဝတီဘဏ်မှ ချေးငွေရယူမည်ဖြစ်ပြီး လုပ်ငန်းစတင်လည်ပတ်ချိန်မှစပြီး ၆နှစ် ၆လအတွင်း ချေးငွေအား ပြန်လည်ပေးဆပ်သွားမည် ဖြစ်ကြောင်းတင်ပြထားပါသည်။ လုပ်ငန်းစတင် အကောင်အထည်ဖော်စဉ်ကာလအတွင်း customer များဖြစ်သည့် ရေနံနှင့်သဘာဝဓာတ်ငွေ့တူးဖော်သည့် ကုမ္ပဏီများနှင့်သွားရောက်တွေ့ဆုံကာ လုပ်ငန်းအကြိုစာချုပ်များချုပ်ဆို ၍ စရံငွေရယူကာ အဆိုပါစရံငွေအား လုပ်ငန်းတွင် ပြန်လည်အသုံးပြုပြီး ဘဏ်သို့ ပြန်လည်ပေးဆပ်သွားရန် လျာထားကြောင်း တင်ပြထားပါသည်။ မြန်မာ့ရေနံနှင့် သဘာဝ ဓာတ်ငွေ့လုပ်ငန်း၊ ရေနံနှင့် သဘာဝ ဓာတ်ငွေ့တူးဖော်သည့် ကုမ္ပဏီများနှင့် တွေ့ဆုံကာ Drilling Plan များ၊ Seismic Plan များ၊ Logistics ဆိုင်ရာ လိုအပ်သည့် အချက်အလက်များကို မိမိတို့၏ စီမံကိန်း Conceptual Plan အား ရှင်းပြပြီး ညှိနှိုင်း ဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဂ) အဆိုပြုလုပ်ငန်း လုပ်ဆောင်မည့် SIM Co., Ltd. (အက်(စ်) အိုင် အမ် ကုမ္ပဏီလီမိတက်) သည် Southern Island Group အောက်တွင်ရှိသော ကုမ္ပဏီခွဲ (၃)ခုအနက် တစ်ခုဖြစ်ပြီး အခြားလက်အောက်ခံ ကုမ္ပဏီ ၂ ခုမှာ သယ်ယူပို့ဆောင်ရေး၊ ကုန်သွယ်မှုဆိုင်ရာလုပ်ငန်းများနှင့် ဝယ်ယူရေးနှင့် ပို့ဆောင်ရေးဆိုင်ရာလုပ်ငန်းများနှင့်ခရီးသွားလာမှုဆိုင်ရာလုပ်ငန်းများကို လုပ်ဆောင်နေကြောင်းနှင့် ကုမ္ပဏီတွင် ပါဝင်သော ဒါရိုက်တာအဖွဲ့ဝင်များ၏ Profile၊ လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခဲ့သည့် မှတ်တမ်းများအား တင်ပြထားကြောင်းစိစစ်တွေ့ရှိရပါသည်။

(ဃ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၆ခုနှစ် နိုဝင်ဘာလ ၁၆ ရက်နေ့ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် ၁၂၃/၂၀၁၆အရ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အဆိုပြုချက်တင်ပြလာခြင်းဖြစ်ပါသည်။

(င) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် အမိန့်ကြော်ငြာစာ(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် SIM Co., Ltd. (အက်(စ်) အိုင် အမ် ကုမ္ပဏီလီမိတက်)မှ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ငပုတောမြို့နယ်၊ ချောင်းသာမြို့၊ နံသာပု ကျေးရွာအုပ်စု၊ အကွက်အမှတ် (၆၇၉)၊ နံသာပုအပြင်ကွင်း၊ ဦးပိုင်အမှတ် ၃၂ ရှိ မြေ ၁၈၄.၃၀ ဧက အနက် မြေ ၄၉ ဧကတွင် ဆိပ်ကမ်းနှင့် သိုလှောင်ရုံများ တည်ဆောက်ပြီး ကမ်းလွန်ရေနံတွင်းများတွင် လိုအပ်သော ဝန်ဆောင်မှုများကို ထောက်ပံ့ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာ ခြင်းနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ- က



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## တိုင်းဒေသကြီးအစိုးရအဖွဲ့
## ဧရာဝတီတိုင်းဒေသကြီး

စာအမှတ်၊ ၁၀၀/၃ - ၁(မ)/အစိုးရ(ဧရာဝတီ)

ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ၊ ဇူလိုင်လ ၈ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်လည်တင်ပြခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၆. ၄. ၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၄ မ-၁၅၅၄/၂၀၁၆(၅၄၀)

၁။ SIM Co.,Ltdမှ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ငပုတောမြို့နယ်၊ ဇရတ်ကောင်းမြို့၊ နံ့သာပု ကျေးရွာအုပ်စု၊ မြေတိုင်းကွင်းအမှတ်(၆၇၉)၊ မြေတိုင်းကွင်းအမည်-နံ့သာပု(ပြင်)၊ မြေဧရိယာ(၄၉)ဧကတွင် ဆိပ်ကမ်းနှင့် သိုလှောင်ရုံများ တည်ဆောက်ပြီး ကမ်းလွန်ရေနံတွင်းများတွင် လိုအပ်သောဝန်ဆောင်မှုများကို ထောက်ပံ့ပေးခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် လုပ်ကိုင်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအောင်မင်းဟန်၏ အဆိုပြုတင်ပြချက်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် သဘောထားတောင်းခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ (၃၀. ၆. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ဧရာဝတီတိုင်းဒေသကြီး အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ်(၉/၂၀၁၆)၊ ဆုံးဖြတ်ချက်(၇)၌ **"ထောက်ခံကြောင်း မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ သဘောထားပြန်လည်တင်ပြရန်"** ဆုံးဖြတ်ခဲ့ပါသဖြင့် အောက်ဖော်ပြပါ အချက်များအား လိုအပ်သလိုဆက်လက်ဆောင်ရွက်နိုင်ပါရန် သဘောထားပေးပို့တင်ပြအပ်ပါသည်-

(က) **ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် နောင်ပြုလုပ်မည့်(သို့) လက်ရှိမြို့ပြစီမံကိန်း ကို ထိခိုက်ခြင်းရှိ/မရှိ**

ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် ပုသိမ်ခရိုင်၊ ငပုတောမြို့နယ်၊ ဇရတ်ကောင်းမြို့၊ နံ့သာပု ကျေးရွာအုပ်စု၊ မြေတိုင်းကွင်းအမှတ်(၆၇၉)၊ မြေတိုင်းကွင်းအမည်-နံ့သာပု(ပြင်)၊ မြေဧရိယာ(၄၉)ဧကသည် လက်ရှိမြို့ပြစီမံကိန်းအား ထိခိုက်မှုမရှိနိုင်သလို နောင်ပြုလုပ်မည့်မြို့ပြစီမံကိန်းအားလည်း ထိခိုက်မှုမရှိပါကြောင်း ထောက်ခံအပ်ပါသည်။

(ခ) **မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်/မဖြစ်**

SIM Co.,Ltd၏ ယခုအဆိုပြုလာသည့် ကမ်းလွန်ထောက်ပံ့ပို့ဆောင်ရေးစီမံကိန်း ပြုလုပ်သည့်အတွက် ဒေသခံပြည်သူများ အလုပ်အကိုင်၊ အခွင့်အလမ်းနှင့် ဒေသစီးပွား ရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေနိုင်ပါကြောင်း ထောက်ခံအပ်ပါသည်။

D/MZH/Letter

(ဂ) ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ/မရှိ။

အဆိုပြုလျှောက်ထားလာသည့် SIM Co.,Ltd၏လုပ်ငန်းများဆောင်ရွက်ခြင်းဖြင့် ဒေသခံများ၏ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ ထိခိုက်နိုင်ခြင်းမရှိပါကြောင်း ထောက်ခံအပ်ပါသည်။

(ဃ) **လုပ်ငန်းဆောင်ရွက်နိုင်သည့်မြေနေရာဟုတ်/မဟုတ်**

အဆိုပြုတင်ပြထားသည့်မြေနေရာသည် SIM Co.,Ltdမှ တင်ပြလာသည့် ဧရာဝတီကမ်းလွန်ထောက်ပံ့ပို့ဆောင်ရေးစီမံကိန်း လုပ်ဆောင်ရန်အတွက် သင့်တော်သည့် မြေနေရာဖြစ်ပါကြောင်း ထောက်ခံအပ်ပါသည်။

(င) **တိုင်းဒေသကြီးအစိုးရအဖွဲ့၏အကြံပြုချက်**

တိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ပြောင်းလဲလာသည့်ခေတ်စနစ်၊ ဥပဒေများနှင့်အညီ တိုင်းဒေသကြီးအတွင်းရှိ ဒေသခံပြည်သူအလုပ်အကိုင်အခွင့်အလမ်းရရှိစေရေး၊ စီးပွားရေးဖွံ့ဖြိုးတိုးတက်စေရေးတို့ကို ဦးစားပေးဆောင်ရွက်လျက်ရှိပါသဖြင့် ယခုအဆိုပြုလာသည့် SIM Co.,Ltd၏ဧရာဝတီကမ်းလွန်ထောက်ပံ့ပို့ဆောင်ရေးစီမံကိန်းသည် ဧရာဝတီတိုင်းဒေသကြီးအတွင်း အကျိုးရှိစေမည့်လုပ်ငန်းဖြစ်ပါသဖြင့် အဆိုပါစီမံကိန်းအား ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ထောက်ခံပါကြောင်း အကြံပြုအပ်ပါသည်။

(signature) ၈၊၂၁၂၀၁၆

ဝန်ကြီးချုပ်(ကိုယ်စား)
( လှကျော်၊ စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီး)

မိတ္တူကို

SIM Co.,Ltd
လုံ့လည်စာတွဲ
ရုံး လက် ခံ

D/MZH/Letter





နောက်ဆက်တွဲ- ၁

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

16 MAR 2017

စာအမှတ်၊ စွမ်းအင်/ မူဝါဒ-ဥပဒေ-လုပ်ငန်းစစ်/ ၀၁(၂၁ /၂၀၁၇)
ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ မတ်လ ရက်

ခုံအမှတ် ၃၀၇
ရက်စွဲ 17 MAR 2017

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။
(၁) ယင်းကော်မရှင်၏ ၄-၃-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၅(အ)/ န-ထွေ/၂၀၁၇ (၀၈၆)
(၂) ယင်းကော်မရှင်၏ ၂-၅-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၄/မ-၁၅၅၄/ ၂၀၁၆ (၆၀၂)
(၃) ဤရုံး၏ ၁၆-၆-၂၀၁၆ ရက်စွဲပါစာအမှတ်၊ စွမ်းအင်/မူဝါဒ-ဥပဒေ-လုပ်ငန်းစစ်/၀၁ (၁၁၄/၂၀၁၆)

၁။ SIM Co., Ltd မှ ဆိပ်ကမ်းနှင့်သိုလှောင်ရုံများ တည်ဆောက်ပြီး ကမ်းလွန်ရေနံတွင်းများတွင် လိုအပ်သောဝန်ဆောင်မှုများကို ထောက်ပံ့ခြင်းလုပ်ငန်းအား လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနနှင့်ဖက်စပ်ဆောင်ရွက်ခြင်းမပြုဘဲ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်နိုင်ခြင်း ရှိ-မရှိ သဘောထားပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်း(၁)ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၅-၄-၂၀၁၆ ရက်နေ့တွင် ကျင်းပပြုလုပ်သော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၁၅/၂၀၁၆) အစည်းအဝေးဆုံးဖြတ်ချက်အရ သက်ဆိုင်ရာဝန်ကြီးဌာနများနှင့် ညှိနှိုင်းဆောင်ရွက်တင်ပြသွားနိုင်ရေးအတွက် ယင်းကော်မရှင်မှ ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြားလာပါသည်။ SIM Co., Ltd. မှ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုတောမြို့နယ်၊ ရေတံကောင်းမြို့နယ်ခွဲ၊ နံ့သပုကျေးရွာအုပ်စုတွင် ဆိပ်ကမ်းနှင့် သိုလှောင်ရုံများ တည်ဆောက်ပြီး ကမ်းလွန်ရေနံတွင်းများတွင် လိုအပ်သောဝန်ဆောင်မှုများကို ထောက်ပံ့ခြင်းလုပ်ငန်းဆောင်ရွက်မည့်ကိစ္စသည် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုပါဝင်ပါက အခြားကန့်သတ်ချက်ဖြင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်းများအမျိုးအစားစာရင်းတွင် ပါဝင်သည့်လုပ်ငန်းဖြစ်သွားမည်ဖြစ်သဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် (၂၆/၂၀၁၆) အရ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနနှင့် ဖက်စပ်ဆောင်ရွက်ရမည်ဖြစ်ပါကြောင်း ရည်ညွှန်း(၃)ပါစာဖြင့် ပြန်ကြားခဲ့ခြင်းဖြစ်ပါသည်။

၃။ SIM Co., Ltd. ၏ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံသူမှ သက်ဆိုင်သည့် ရင်းနှီးမြှုပ်နှံမှုဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ အဆိုပြုတင်ပြခြင်းဖြစ် သောကြောင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၄။ တင်ပြပါလုပ်ငန်းနှင့်ပတ်သက်၍ အဆိုပြုသူ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံသူ၏ လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်နိုင်မည့် သက်ဆိုင်သည့် နည်းပညာကျွမ်းကျင်မှု၊ ငွေကြေးအရင်းအနှီးခိုင်မာမှုနှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုပါဝင်ခြင်း ရှိ-မရှိ စသည့်အချက်တို့မှာ ကော်မရှင်မှသာ ဆက်လက်စိစစ်ဆောင်ရွက်သွားမည့် ကိစ္စရပ်များဟု သုံးသပ်ရရှိပါသည်။

၁၆၊၂၊၁၇

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
( ထိန်လွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို
မြန်မာ့ရေနံနှင့်သဘာဝဓာတ်ငွေ့လုပ်ငန်း

နောက်ဆက်တွဲ-ဂ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး




စာအမှတ်၊ ပဆ-(၃)/(တံတား-MPA)/၂၀၁၆ ( ၁၉၄၅)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ မေလ ၃၀ ရက်

PJ-1266 31.5.16
7/3-784 1/6

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၆.၄.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၄/မ-၁၅၅၄/၂၀၁၆ (၅၄၃)

၁။ SIM Company Limited မှ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ငပုတောမြို့နယ်၊ ငရုတ်ကောင်းမြို့နယ်ခွဲ၊ နံ့သပုကျေးရွာအုပ်စု၊ မြေတိုင်းကွင်းအမှတ် ၆၇၉၊ မြေတိုင်းကွင်းအမည်၊ နံ့သာပု (ပြင်)၊ မြေဧရိယာ (၄၉) ဧကတွင် ဆိပ်ကမ်းနှင့် သိုလှောင်ရုံများ တည်ဆောက်ပြီး၊ ကမ်းလွန်ရေနံတွင်းများတွင် လိုအပ်သော ဝန်ဆောင်မှုများကို ထောက်ပံ့ခြင်းလုပ်ငန်းများအတွက် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ကိစ္စနှင့် စပ်လျဉ်း၍ SIM Company Limited မှ အဆိုပြုတင်ပြထားသည့် ကမ်းလွန်ထောက်ပံ့ပို့ဆောင်ရေးစခန်း (Offshore Supply Base) စီမံကိန်းဧရိယာသည် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ Port Limit ပြင်ပတွင် တည်ရှိပါသည်။ သို့ရာတွင် ဆိပ်ကမ်းဖွံ့ဖြိုးတိုးတက်ရေးလုပ်ငန်းများ ဆောင်ရွက်ပါက မြန်မာ့ဆိပ်ကမ်းအာဏာပိုင် ဥပဒေအရ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနမှ ပြည်ထောင်စုအစိုးရအဖွဲ့၏ သဘောတူညီချက်ဖြင့် ဆိပ်ကမ်းသစ်များအား Port Limit အဖြစ်သတ်မှတ်နိုင်ရန်အတွက် အမိန့်ကြော်ငြာစာ ထုတ်ပြန်၍ ဆောင်ရွက်သွားရမည် ဖြစ်ပါသည်။

၃။ အထက်စာပိုဒ် (၂) တွင် ဖော်ပြထားသည့်အတိုင်း Port Limit သတ်မှတ်ခြင်းအပြင် SIM Company Limited မှ အဆိုပြုတင်ပြသည့် ဆိပ်ခံတံတားသည် နိုင်ငံတကာ ဆိပ်ကမ်းဖြစ်သည့်အားလျော်စွာ ဆိပ်ခံတံတား တည်ဆောက်၍ ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရန် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် SIM Company Limited တို့အကြား BOT စနစ်ဖြင့် နှစ်ရှည်မြေငှားရမ်းသည့်ပဋိညာဉ်စာချုပ် ချုပ်ဆိုဆောင်ရွက်သွားရန် အပြည့်ပြည့်ဆိုင်ရာ ဆိပ်ခံတံတားကို စံချိန်စံညွှန်းနှင့်အညီတည်ဆောက်သွားရန် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ကြီးကြပ်စစ်ဆေးနိုင်ရန်နှင့် တည်ဆောက်ရေး

လုပ်ငန်းပြီးစီးပါက အပြည်ပြည်ဆိုင်ရာဆိပ်ကမ်းအဖြစ် ခွင့်ပြုမိန့် ထုတ်ပေးနိုင်ရန် အတွက် SIM Company Limited မှ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ ဆိပ်ခံတံတားနှင့်ပတ်သက်သည့် အချက်အလက်များအား တင်ပြလျှောက်ထားရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထား ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
သက်ထွန်း - ဒုတိယအမြဲတမ်းအတွင်းဝန်

မိတ္တူကို -

- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်